**အကြောင်းအရာ။** မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ နှင့် Myanmar Tap Water Co., Ltd.တို့မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှ မြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်း လုပ်ငန်းကို BOT စနစ်ဖြင့်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br><br><br>လုပ်ငန်းအမျိုးအစား | - Myanmar Tap Water Co., Ltd.<br>- Mr. ChaiwatUtaiwan (Thailand)<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Z Corporation Company Limited ( မြန်မာ) ၃၀ %<br>Thai Water Operations Co.,Ltd.(ထိုင်းနိုင်ငံ) ၇၀ %<br>- သောက်သုံးရေပေးဝေခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | (က)မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ သာယာအေးရပ်၊ လှိုင်ဈေးလမ်း၊ အမှတ် ၁၁၊ ဦးပိုင်အမှတ် ၁၃၂၆ ရှိ မြေ ၄.၅၉၁ ဧက၊<br>(ခ) မော်လမြိုင်မြို့၊ လှိုင်ရပ်၊ အမှတ် ၁၉၊ မြို့ရှောင်လမ်း၊ ဦးပိုင် အမှတ် (၁၆) ရှိ မြေ၀.၉၁၆ ဧက၊<br>(ဂ) မော်လမြိုင်မြို့၊ ရွှေတောင်ရပ်၊ တောင်ရိုးတန်းလမ်း၊ ဦးပိုင် အမှတ် ၂၁(က)၊ ၂၂၊ ၂၃(က)၊ ၂၄၊ ၂၅၊၂၆၊ ၂၇၊ ၂၈ ရှိမြေ ၀.၆၈၅ ဧက |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ<br><br><br><br><br><br><br>မြေ/အဆောက်အအုံငှားရမ်း<br>/အသုံးပြုခွင့်သက်တမ်း | - မော်လမြိုင်စည်ပင်သာယာရေးအဖွဲ့<br>- မြေကွက်(၃)ကွက်ရှိ စုစုပေါင်းမြေဧရိယာ(၆.၁၉၂)ဧက<br>- ၁ နှစ် မှ ၅နှစ်မြောက်အထိ တစ်လလျှင် ကျပ် ၂၀၀,၀၀၀<br>၆နှစ်မှ ၁၀နှစ်မြောက်အထိ တစ်လလျှင် ကျပ် ၃၀၀,၀၀၀<br>၁၁နှစ်မြောက် အတွက် တစ်လလျှင် ကျပ် ၅၀၀,၀၀၀ ဖြစ်၍ ၁၂ နှစ်မြောက်မှစ၍ ငှားရမ်းကာလကုန်ဆုံးသည်အထိ မြန်မာနိုင်ငံ တော်ဗဟိုဘဏ်မှ ထုတ်ပြန်သော ငွေကြေးဖောင်းပွမှုနှုန်းအရ ငှားရမ်းသူနှင့် ငှားယူသူတို့ဆွေးနွေး၍ ငှားရမ်းခနှုန်းကိုသတ် မှတ်မည်ဖြစ်ပါသည်။<br>- ၃၂ နှစ် ၆ လ |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - ၃၀ နှစ် |

<table>
<tr><td>၅။</td><td>တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ</td><td>- ၃၀ လ</td></tr>
<tr><td>၆။</td><td>စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား</td><td>- အမေရိကန်ဒေါ်လာ ၁၂.၀၀ သန်း
<table>
<tr><th></th><th>နိုင်ငံခြား(US$ သန်း)</th><th>မြန်မာ(US$ သန်း)</th><th>စုစုပေါင်း(US$ သန်း)</th></tr>
<tr><td>ငွေသား</td><td>၀.၂၄</td><td>၃.၆၀</td><td>၃.၈၄</td></tr>
<tr><td>စက်နှင့်စက်ပစ္စည်း</td><td>၈.၁၆</td><td>-</td><td>၈.၁၆</td></tr>
<tr><td>စုစုပေါင်း</td><td>၈.၄၀</td><td>၃.၆၀</td><td>၁၂.၀၀</td></tr>
</table></td></tr>
<tr><td>၇။</td><td>နှစ်စဉ်ဝန်ဆောင်မှု (အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်း)</td><td>
<table>
<tr><th>Production ($m^3$)</th><th>Sale Volume ($m^3$)</th></tr>
<tr><td>၁၁,၀၂၈,၈၈၀</td><td>၇,၁၆၈,၇၇၃</td></tr>
</table></td></tr>
<tr><td>၈။</td><td>ဝန်ဆောင်ခနှုန်း</td><td>
<table>
<tr><th colspan="2">အိမ်ထောင်စုသုံးရေ (ရေတစ်ယူနစ်=၂၂၀ ဂါလံ)</th><th colspan="2">စီးပွားရေးလုပ်ငန်းသုံးရေ</th></tr>
<tr><th>ယူနစ်</th><th>ဈေးနှုန်း ကျပ်/ယူနစ်</th><th>ယူနစ်</th><th>ဈေးနှုန်း ကျပ်/ယူနစ်</th></tr>
<tr><td>၀-၁၅</td><td>၂၀၀</td><td>၀-၁၀၀</td><td>၄၀၀</td></tr>
<tr><td>၁၆-၃၀</td><td>၃၀၀</td><td>၁၀၁-၂၀၀</td><td>၅၀၀</td></tr>
<tr><td></td><td></td><td>>၂၀၀</td><td>၆၅၀</td></tr>
</table></td></tr>
<tr><td>၉။</td><td>ဝန်ဆောင်မှုပေးမည့်နေရာများ</td><td>- မွန်ပြည်နယ်၊မော်လမြိုင်မြို့ရှိ<br>(က) ဇေယျာသီရိရပ်ကွက်<br>(ခ) ရွှေတောင်ရပ်ကွက်<br>(ဂ) ရွှေမြိုင်သီရိရပ်ကွက်<br>(ဃ) ကျိုက်ခနဲရပ်ကွက်<br>(င) ဖက်တန်းရပ်ကွက်<br>(စ) သာယာအေးရပ်ကွက်<br>(ဆ) မန္တလေးရပ်ကွက်<br>(ဇ) လှိုင်ရပ်ကွက်<br>(ဈ) ပန်းဘဲတန်းရပ်ကွက်<br>(ည) မရမ်းကုန်းရပ်ကွက်</td></tr>
</table>

| | | |
|---|---|---|
| | | (ဠ) စစ်ကဲကုန်းရပ်ကွက်<br>(ဋ) အုတ်ကျင်းရပ်ကွက် တို့ဖြစ်ပါသည်။ |
| ၁၀။ | အခြားတင်ပြချက် | - ပြည်တွင်းဝန်ထမ်း ၂၀ ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ US$ ၁၅၀နှင့် အမြင့်ဆုံးလစာမှာ US$ ၂၃၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၅ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ US$ ၁,၂၅၃ နှင့် အမြင့်ဆုံးလစာမှာ US$ ၃,၁၃၃ ဖြစ်ပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Thai Water Operations Co., Ltd. မှ ၂၅-၁၀-၂၀၁၇ ရက်စွဲဖြင့် ထိုင်းနိုင်ငံရှိ Bangkok Bank ၌ Baht ၅၅,၁၂၈,၄၃၆.၀၃ (US$ ၁,၆၅၅,၅၀၈.၅၉) ရှိကြောင်း တင်ပြထားပါသည်။<br>- မွန်ပြည်နယ် စည်ပင်သာယာရေးကော်မတီနှင့် ချုပ်ဆိုမည့် မြေငှား ရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ BOT စာချုပ် (မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ ကုမ္ပဏီအမည်စစ် လျှောက်ထားလွှာ၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ နိုင်ငံကူးလက်မှတ်မိတ္တူ၊ နိုင်ငံသားစိစစ် ရေးကဒ်မိတ္တူ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)များ အား တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းအား ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၇ နေ့ တွင် ကျင်းပ ပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၂၆/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြပြီးဖြစ်ပါသည်။<br>- BOTစာချုပ် (မူကြမ်း) အရ ကုမ္ပဏီသည် မွန်ပြည်နယ်စည်ပင် သာယာရေးအဖွဲ့သို့ ရေ ၁ကုဗမီတာအတွက် ရေခွန်ကောက်ခံရရှိ တိုင်း ကျပ်ငွေ ၅ ကျပ်နှုန်း ပေးဆောင်မည်ဖြစ်ကြောင်း စိစစ်တွေ့ ရှိရပါသည်။<br>- မြေငှားစာချုပ်(မူကြမ်း)အရ ကုမ္ပဏီသည် မွန်ပြည်နယ်စည်ပင်သာ ယာရေးအဖွဲ့အား မြေအသုံးချမှုပရီမီယံကြေး ကျပ် ၁၀,၀၀၀,၀၀၀ ကို ပေးသွင်းရမည်ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခအား နှစ်အလိုက် ပေးချေမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အဆိုပြုလုပ်ငန်းသည် အများပြည်သူနှင့်ဆိုင်သောဝန်ဆောင်မှုလုပ်ငန်း(Public Utilities Services) ဖြစ်သည့်အတွက် ပြည်နယ်လွှတ်တော်သို့ တင်ပြ |

| | | |
|---|---|---|
| | | အတည်ပြုချက် ရယူသင့်ကြောင်းနှင့် ပြည်နယ်အစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုလွှာပြန်လည်တင်ပြနိုင်ပါရန် အကြောင်းကြား ခဲ့ပါသည်။<br>- ၂၀၁၇ ခုနှစ် ဇူလိုင်လ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၇) ဆုံးဖြတ်ချက် အပိုဒ်၂၈ အရ အဆိုပါလုပ်ငန်းအား ဆောင်ရွက်ရန် သဘောတူကြောင်းနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြရန်ဆုံးဖြတ်ခဲ့ပါ၍ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၂၁ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ပြည်ထောင်စုအစိုးရအဖွဲ့ (၁၄/၂၀၁၇) ကြိမ် မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ အဆိုပြုလုပ်ငန်းအား ဆောင် ရွက်ခွင့်ပြုရန် သဘောတူကြောင်း မွန်ပြည်နယ်အစိုးရအဖွဲ့မှ တင်ပြ ထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဇုန် (၂) ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသော ဒေသ များစာရင်းတွင် ပါဝင်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/ခ-၀၀၉/ ၂၀၁၇( ၄၉၇ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် Myanmar Tap Water Co., Ltd. မှ သောက်သုံးရေပေးဝေခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါ ရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Thai Water Operations Co., Ltd.မှ ၇၀% နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀ % ဖြင့် မြန်မာနိုင်ငံ တွင် Myanmar Tap Water Co., Ltd. တည်ထောင်ပြီး မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်ပြီး မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့နှင့် BOTစနစ်ဖြင့် သောက်သုံးရေပေးဝေခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Tap Water Co., Ltd. တို့အကြားချုပ်ဆိုမည့် BOT စာချုပ်(မူကြမ်း)၊ မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ မွန်ပြည်နယ်ဥပဒေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ နိုင်ငံကူးလက်မှတ်မိတ္တူ၊ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ၊ ကုမ္ပဏီအမည်စစ် လျှောက်ထားလွှာ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများကို ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းကာလမှာ ၃၂နှစ် နှင့် ၆ လ ဖြစ်ပြီး မြေဧရိယာ ၆.၁၉၂ ဧက (၂၅,၀၅၈.၁၅ စတုရန်းမီတာ)အား ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။နှစ်စဉ်မြေငှားရမ်းခမှာ ပထမနှစ်မှ ၅နှစ်မြောက်အထိအတွက် တစ်လလျှင် ကျပ် ၂၀၀,၀၀၀၊ ၆နှစ်မြောက် မှ ၁၀နှစ်မြောက်အထိ တစ်လလျှင် ကျပ် ၃၀၀,၀၀၀၊ ၁၁ နှစ်မြောက်အတွက် တစ်လလျှင် ကျပ် ၅၀၀,၀၀၀ ဖြစ်၍ ၁၂ နှစ်မြောက်မှစ၍ ငှားရမ်းကာလကုန်ဆုံးသည်အထိ မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ ထုတ်ပြန်သော ငွေကြေး ဖောင်းပွမှုနှုန်းအရ နှစ်စဉ်တိုးမြှင့်မည်ဖြစ်ပါသည်။

၄။ လုပ်ငန်းသက်တမ်းကာလမှာ ၃၀ နှစ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၃၀ လ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၂.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**(US$ သန်း)**

| **စဉ်** | **ထည့်ဝင်မည့် အမျိုးအစား** | **နိုင်ငံခြား** | **မြန်မာ** | **စုစုပေါင်း** |
|---|---|---|---|---|
| (က) | ငွေသား | ၀.၂၄ | ၃.၆၀ | ၃.၈၄ |
| (ခ) | စက်ပစ္စည်း၊ကိရိယာများ | ၈.၁၆ | - | ၈.၁၆ |
| | **စုစုပေါင်း** | **၈.၄၀** | **၃.၆၀** | **၁၂.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၂၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၅၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂၃၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၂၅၃ ဖြစ်၍ အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၁၃၃ ဖြစ်ပါသည်။

၇။ ကုမ္ပဏီသည် မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ သာယာအေးရပ်၊ လှိုင်ဈေးလမ်း၊ အမှတ် ၁၁၊ ဦးပိုင်အမှတ် ၁၃၂၆ ရှိ မြေ ၄.၅၉၁ ဧကတွင် ရေသန့်စင်စက်ရုံတည်ဆောက်မည်ဖြစ်ပြီး မော်လမြိုင်မြို့၊ လှိုင်ရပ်၊ မြို့ရှောင်လမ်း၊ အမှတ် ၁၉၊ ဦးပိုင်အမှတ် ၁၆ ရှိ မြေ ၀.၉၁၆ ဧကတွင် သန့်စင်ပြီးရေကို အပေါ်စုပ်တင်ပြီး ရပ်ကွက် (၁၂) ရပ်ကွက်သို့ ဖြန့်ဝေမည့်နေရာအဖြစ် အသုံးပြုမည်ဖြစ်ပြီး မော်လမြိုင်မြို့၊ ရွှေတောင်ရပ်၊ တောင်ရိုးတန်းလမ်း၊ ဦးပိုင်အမှတ် ၂၁(က)၊ ၂၂၊ ၂၃(က)၊ ၂၄၊ ၂၅၊ ၂၆၊ ၂၇၊ ၂၈ ရှိ မြေ ၀.၆၈၅ ဧကတွင် ရေသိုလှောင်ကန် တည်ဆောက်မည် ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် သန့်စင်ပြီးရေကို မော်လမြိုင်မြို့ရှိ ရပ်ကွက်ပေါင်း (၁၂)ကွက်သို့ ရေပေးဝေခြင်းနှင့်ရေမီတာခ ကောက်ခံခြင်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့်(ယူနစ်)နှင့် ဝန်ဆောင်ခနှုန်း(ကျပ်)တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အိမ်ထောင်စုသုံးရေ** (ရေတစ်ယူနစ်=၂၂၀ ဂါလံ) | | **စီးပွားရေးလုပ်ငန်းသုံးရေ** | |
|---|---|---|---|
| **ယူနစ်** | **ဈေးနှုန်း (ကျပ်/ယူနစ်)** | **ယူနစ်** | **ဈေးနှုန်း (ကျပ်/ယူနစ်)** |
| ၀-၁၅ | ၂၀၀ | ၀-၁၀၀ | ၄၀၀ |
| ၁၆-၃၀ | ၃၀၀ | ၁၀၁-၂၀၀ | ၅၀၀ |
| | | >၂၀၀ | ၆၅၀ |

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနနှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များအား တင်ပြထားပါသည်။ **(နောက်ဆက်တွဲ-က)**

၁၁။ ငွေကြေးအထောက်အထားများအဖြစ် Thai Water Operations Co., Ltd. အမည်ဖြင့် ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ ၁၅ ရက်နေ့တွင် ထိုင်းနိုင်ငံရှိ Bangkok Bank ၌ Baht ၅၅,၁၂၈,၄၃၆.၀၃ (US$ ၁,၆၅၅,၅၀၈.၅၉) ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၂။ (က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းအား ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၇ နေ့ တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

(ဂ) BOTစာချုပ်(မူကြမ်း)အရ ကုမ္ပဏီသည် မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့သို့ ရေ ၁ကုဗမီတာအတွက် ရေခွန်ကောက်ခံရရှိတိုင်း ကျပ်ငွေ ၅ ကျပ်နှုန်း ပေးဆောင်မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) မြေငှားစာချုပ် (မူကြမ်း) အရ ကုမ္ပဏီသည် မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့အား မြေအသုံးချမှုပရီမီယံကြေး ကျပ် ၁၀,၀၀၀,၀၀၀ ကို ပေးသွင်းရမည်ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခအား နှစ်အလိုက် ပေးချေမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အဆိုပြုလုပ်ငန်းသည် အများပြည်သူနှင့်ဆိုင်သောဝန်ဆောင်မှုလုပ်ငန်း (Public Utilities Services) ဖြစ်သည့်အတွက် ပြည်နယ်လွှတ်တော်သို့ တင်ပြအတည်ပြုချက် ရယူသင့်ကြောင်းနှင့် ပြည်နယ်အစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုလွှာပြန်လည်တင်ပြနိုင်ပါရန် အကြောင်းကြားခဲ့ပါသည်။

(စ) ၂၀၁၇ ခုနှစ် ဇူလိုင်လ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၇) ဆုံးဖြတ်ချက် အပိုဒ်၂၈အရ အဆိုပါလုပ်ငန်းအား ဆောင်ရွက်ရန်သဘောတူကြောင်းနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြရန်ဆုံးဖြတ်ခဲ့ပါ၍ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၂၁ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ပြည်ထောင်စုအစိုးရအဖွဲ့ (၁၄/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် သဘောတူကြောင်း မွန်ပြည်နယ်အစိုးရအဖွဲ့မှ တင်ပြထားပါသည်။ **(နောက်ဆက်တွဲ-ခ)**

(ဆ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုဦးစားပေးမြှင့်တင်မည့်ကဏ္ဍတွင် ပါဝင်ပြီး ဇုန် (၂) ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသော ဒေသများစာရင်းတွင် ပါဝင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co.,Ltd.မှ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် သောက်သုံးရေပေးဝေခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

(နောက်ဆက်တွဲ - က)





NPT-4515
29.9.15

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၆၂ - ပဆ / ခွဲ (၁) (ည) (၉/၃၈၂ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

**သို့**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

MY-626
30.9.15

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၉-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၅/(အ)/၀၀၈/၂၀၁၅(၂၉၆)

ထိုင်းနိုင်ငံ Thai Water Operations Co.,Ltd မှ ၇၀% နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ ၃၀% ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co.,Ltd တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ အတ္တရံမြစ်၊ မြစ်ရေတင်စက်အမှတ် (၂) မှ မြစ်ရေကိုရယူပြီး ရေသန့်စင် ဖြန့်ဝေခြင်းလုပ်ငန်းအား မွန်ပြည်နယ် စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်မည့်ကိစ္စအပေါ် ပို့ဆောင်ရေးဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊ သို့ရာတွင် လုပ်ငန်းများဆောင်ရွက်ရာ၌ အသုံးပြုမည့် ရေစစ်ကန်၊ ရေလှောင်ကန်များသည် ကမ်းနားနယ် (၁၅၀)ပေ အတွင်း တည်ဆောက်ခြင်းမပြုရန်၊ မဖြစ်မနေ ဆောင်ရွက်ရန် လိုအပ်ပါက ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၏ ခွင့်ပြုချက် ရယူဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်းနှင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ နိုင်ငံတော်မှ ပြဋ္ဌာန်းမည့် ရေဥပဒေများကိုလည်း လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သက်ထွန်း - ခေတ္တ အမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန

\\Metdata\d\Thabawthar\Thabawthar(Rep).doc

M4 - 644
5.10.15



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MPT 4584
2.10.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၆၃၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၅ (အ) / ၀၀၈ / ၂၀၁၅ (၂၉၅)

၁။ ထိုင်းနိုင်ငံ Thai Water Operation Co., Ltd. မှ ၇၀ % နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀ % ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. တည်ထောင်၍ မွန်ပြည်နယ် ၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်း လုပ်ငန်းကို မွန်ပြည်နယ် စည်ပင်သာယာရေးအဖွဲ့ နှင့် BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် မြစ်အတွင်းမှ ထုတ်ယူနိုင်မည့် ပမာဏထက်ပိုမိုထုတ်ယူပါက မြစ်ရေလျော့နည်းခြင်း ၊ မြစ်အောက်ပိုင်းရှိ ဒေသများ ရေရရှိမှု ခက်ခဲနိုင်ခြင်း ၊ မြစ်ကြောင်းပြောင်းလဲသွားနိုင်ခြင်း ၊ မြစ်ရေ ရယူမည့်နေရာ အထက်ပိုင်းတွင် အခြားစွန့်ပစ် ရေများ ရှိပါက ပေးဝေမည့်ရေ၏ အရည်အသွေး ကျဆင်းနိုင်ခြင်းစသည့် ပတ်ဝန်းကျင် နှင့် ကျန်းမာရေး ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ Myanmar Tap Water Co., Ltd. မှ BOT စနစ်ဖြင့် အတ္တရံမြစ်မှမြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် မြစ်အတွင်းမှ ထုတ်ယူနိုင်မည့် ပမာဏထက် ပိုမိုထုတ်ယူမှု မရှိစေရေး ၊ မြစ်ကြောင်းပြောင်းလဲမှု နှင့် မြစ် အောက်ပိုင်းဒေသများ ရေ ရရှိမှု အခက်အခဲ မရှိစေရေး နှင့် မြစ်ရေ ရယူမည့်နေရာ အထက်ပိုင်း ရှိ ရေထု ညစ်ညမ်းစေသည့် လုပ်ငန်းများ ဆောင်ရွက်မှု ရှိ / မရှိ ဆန်းစစ်၍ ပတ်ဝန်းကျင် နှင့် လူထုကျန်းမာရေး ထိခိုက်မှု မရှိစေရန် စီမံချက်များ ၊ အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေး နှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက် ရေးဆွဲခြင်း ၊ လုပ်ငန်းအဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များ နှင့် စက်ကိရိယာများ အသုံးပြုခြင်း ၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု ( CSR ) အတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏ ( ၂ % ) ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဂ) ပတ်ဝန်းကျင် ထိခိုက်မှု နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့် စနစ် ၊ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်းများ ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များ ၊ စံချိန်စံညွှန်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(င) သက်ဆိုင်ရာ တိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

၁၀၊၉၊၁၇

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

(နောက်ဆက်တွဲ - ခ)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်



စာအမှတ် ၊ ၂၀၀/ ၂ - ၂ / အဖရ(မွန်)(၁၀၀၁ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ၊ အောက်တိုဘာလ ၂၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၀-၈-၂၀၁၇) ရက်စွဲပါစာအမှတ်၊ ၄၀ / ၁၆၈/ အဖရ (၁၄/၂၀၁၇)

(၂) မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့၏ (၂-၁၀-၂၀၁၇) ရက်စွဲပါစာအမှတ်၊ ၃၀၀၂/ ဂ-၈/ မပစ(၀၂၀)

၁။ မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ မြို့ပေါ်(၂၉)ရပ်ကွက်အနက် (၂၂)ရပ်ကွက်သို့ အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်ပြီး ရေပေးဝေခြင်းလုပ်ငန်းအား ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%)နှင့် မြန်မာနိုင်ငံ Z Coporation Co.,Ltd မှ (၃၀%) ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်ပြီး မော်လမြိုင်မြို့နယ်စည်ပင် သာယာရေးအဖွဲ့နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ စီမံကိန်းနှင့်ပတ်သက်၍ (၅-၇-၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရ အဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၇) ဆုံးဖြတ်ချက်အပိုဒ်(၂၈)အရ Myanmar Tap Water Co.,Ltd က မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းအား မော်လမြိုင် မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်သဘောတူကြောင်းနှင့် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြရန် ဆုံးဖြတ်ခဲ့၍ အဆိုပါလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆက်လက် ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့သို့ (၁၇-၇-၂၀၁၇)ရက်စွဲပါစာဖြင့် အမှာစာနှင့်အတူ ပေးပို့တင်ပြခဲ့ရာ ပြည်ထောင်စုအစိုးရအဖွဲ့မှလည်း ရည်ညွှန်း(၁)ပါစာဖြင့် ဆောင်ရွက်ခွင့်ပြုကြောင်း အကြောင်းကြားခဲ့ပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar Tap Water Co.,Ltd ၏ မော်လမြိုင်မြို့တွင် ရေသန့်စင်ခြင်း လုပ်ငန်းဆောင်ရွက်မှုသည် မော်လမြိုင်မြို့နေ ပြည်သူလူထုများ၏ လိုလားချက်အရ အများပြည်သူ ဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အမှန်တကယ်ဆောင်ရွက်ရန် လိုအပ်သောလုပ်ငန်းဖြစ်ပါသဖြင့် အဆိုပါလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်

မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့မှ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြခဲ့ပြီး ဤရုံးသို့ မိတ္တူပေးပို့တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ မွန်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(လှဝင်းတင်၊ အတွင်းရေးမှူး)

မိတ္တူကို

စည်ပင်သာယာရေးနှင့်ဆောက်လုပ်ရေးဝန်ကြီး
လှည့်လည်စာတွဲ
ရုံးလက်ခံ

Ei General-Letter 51



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

ဖျော့ဖက် / ကြေးနန်း
စာအမှတ် ၃၉၆၄
နေ့စွဲ ၁၄ ၈ ၁၇
အချိန် ၁၁:၀၀

စာအမှတ်၊ ၄၀ / ၁၆၈ / အဖရ (၁၄/၂၀၁၇)။
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၁၀ ရက်။

## အ မှာ စာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှမြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။**

၁။ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၂၁ ရက် (သောကြာ)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၇)မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

**ဝန်ကြီးချုပ်**
**မွန်ပြည်နယ်အစိုးရအဖွဲ့**

၄၀။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှမြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။**

မွန်ပြည်နယ်အစိုးရအဖွဲ့၏ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၁၇ ရက် နေ့စွဲပါ အမှာစာ အမှတ်၊ ၂၀၀ / ၂-၁ / အဖရ (မွန်) (၀၆၄၈)။

ထိုင်းနိုင်ငံ Thai Water Operation Co., Ltd. မှ (၇၀ %)နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ (၃၀ %)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co., Ltd. တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကိုသန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် သဘောတူကြသည်။ ဆောင်ရွက်ရန်၊ မွန်ပြည်နယ်အစိုးရအဖွဲ့။